**ကုမ္ပဏီအမည်** - Areca Collection (Myanmar) Limited

**လုပ်ငန်း** - ပရိဘောဂနှင့် တပ်ဆင် ပစ္စည်းများ၊ အခန်းတွင်း အလှဆင်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၇-၁၀-၂၀၁၆ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) စက်မှုဝန်ကြီးဌာန | ၂၂-၁၁-၂၀၁၆ | ၇-၁၂-၂၀၁၆ | |
| | (ခ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၂-၁၁-၂၀၁၆ | ၉-၁၂-၂၀၁၆ | |
| | (ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့ | ၁၇-၁၁-၂၀၁၆ | ၂၀-၁၂-၂၀၁၆ | |
| ၃ | PAT တင်ပြခြင်း | ၃၉/၂၀၁၆ (၂၄-၁၀-၂၀၁၆) | | |
| ၄ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၂၇-၁၀-၂၀၁၆ | | |
| ၅ | မြေအသုံးပြုခွင့် တင်ပြခြင်း<br>(က) ကော်မရှင်အစည်းအဝေးသို့ တင်ပြခြင်း | ၂၂/၂၀၁၆ (၁-၁၂-၂၀၁၆) | | |
| | (ခ) စီးပွားရေးရာကော်မတီ အစည်းအဝေးသို့ တင်ပြခြင်း | ၁၆/၂၀၁၆ (၃၀-၁၂-၂၀၁၆) | | |
| | (ဂ) ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြခြင်း | ၃/၂၀၁၇ (၂-၂-၂၀၁၇) | | |
| ၆ | MIC အစည်းအဝေးသို့ တင်ပြရန် ကုမ္ပဏီမှ အဆိုပြုလွှာ (၁၁)စုံ လက်ခံရရှိခြင်း | ၃၁-၁-၂၀၁၇ | | |
| ၇ | MIC အစည်းအဝေးသို့ တင်ပြခြင်း | | | |
| | **စုစုပေါင်းကြာမြင့်ချိန်** | **၁၀၆ ရက်** | | |

ကုမ္ပဏီအမည် - Areca Collection (Myanmar) Limited

အဖွဲ့အစည်းပုံသဏ္ဌာန် - ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

လုပ်ငန်းအမျိုးအစား - ပရိဘောဂနှင့် တပ်ဆင် ပစ္စည်းများ၊ အခန်းတွင်း အလှဆင်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း

တည်နေရာ - မြေကွက်အမှတ် C3 ၊ မြေတိုင်းရပ်ကွက်အမှတ် (၂၁)၊ မြစိမ်းရောင် စက်မှုဇုန်ဥယျာဉ်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - အမေရိကန်ဒေါ်လာ ၁.၀၀ သန်း

အရင်းကြေကာလ - ၆ နှစ်

IRR - ၂၆.၀၃%

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၂.၁၆၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၀.၆၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၃၁.၂၅ | - |
| ၄ | ဝင်ငွေခွန် | ၃၂၉.၈၉ | ၈၅၇.၇၃ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ၆၂၅.၀၀ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၁၁၅၀.၀၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ဝင်ငွေခွန်ဥပဒေအတိုင်း ထမ်းဆောင်ပါမည်။ |
| ၈ | CSR (၂%) | | ၁၃.၂၀ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၇၂ ဦး အလုပ်အကိုင် ရရှိမည် ဖြစ်ပါသည်။ |
| | စုစုပေါင်း | ၃၆၃.၃၀ | ၂၆၄၆.၅၉၅ |
| ၁၀ | Cost : Benefit | ၁ : ၇ | |

အကြောင်းအရာ။ ရခိုင်နှန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Areca Collection (Myanmar) Limited မှ ပရိဘောဂနှင့် တပ်ဆင်ပစ္စည်းများ၊ အခန်းတွင်း အလှဆင်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Areca Collection (Myanmar) Limited |
| | ကမကထပြုသူ | Mr. Ng Wee Hian (Singaporean) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| | | - Biessie Creation Pte. Ltd. (စင်္ကာပူနိုင်ငံ) နှင့် ၆၀% |
| | | - Falcon Incorporation Pte. Ltd. (စင်္ကာပူနိုင်ငံ) ၄၀% |
| | လုပ်ငန်းအမျိုးအစား | - ပရိဘောဂနှင့် တပ်ဆင်ပစ္စည်းများ၊ အခန်းတွင်း အလှဆင်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ် C3 ၊ မြေတိုင်းရပ်ကွက်အမှတ် (၂၁)၊ မြစိမ်းရောင်စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| | မြေဧရိယာ | - ၄၃၀၄ စတုရန်းမီတာ |
| | မြေပိုင်ရှင် | - Great Shwe Taung Development Co., Ltd. |
| ၃။ | မြေငှားသက်တမ်း | - ၁၀ နှစ် နှင့် သက်တမ်းတိုး ၅ နှစ် (၁) ကြိမ် |
| | မြေနှင့်အဆောက်အဦ ငှားရမ်းခ | - မြေ ၂.၉၃၃ ဧက (၁၁၈၆၉.၄၃ စတုရန်းမီတာ) အနက် ၄၃၀၄ စတုရန်းမီတာ၊ မြေနှင့်အဆောက်အဦ တစ်နှစ် ငှားရမ်းခ US$ ၁၅၄,၉၄၄<br>မြေနှင့်အဆောက်အဦ တစ်လ တစ်စတုရန်း မီတာလျှင် US$ ၃.၀၀<br>**တစ်နှစ်လျှင် US$ ၃၆** |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် (၂) ကြိမ် |

| | | |
|---|---|---|
| ၅။ | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း | - **US$ ၁.၀၀ သန်း** |
| | ထည့်ဝင်သည့်အမျိုးအစား | |
| | - ငွေသား | - US$ ၁.၀၀ သန်း |
| ၇။ | ပြည်ပမှ အခွန်အကောက်ကင်းလွတ်ခွင့်ဖြင့် တင်သွင်းလိုသည့် စက်ပစ္စည်းများ | - **တည်ဆောက်ရေးကာလအတွင်း စက်ပစ္စည်း US$ ၃၄၂၅၃၅ တန်ဖိုးအား ပြည်ပမှ တင်သွင်းမည်ဖြစ်ပြီး ကျန်စက်ပစ္စည်း(Spare Parts for Machine) US$ ၁၅၀၉၇၂ တန်ဖိုးအား နှစ်အလိုက် အခွန်ပေးဆောင်၍ ပြည်ပမှ တင်သွင်းမည် ဖြစ်ပါသည်။** (1 US $ = 1250 Kyats ဖြင့် တွက်ချက်ထားပါသည်။) |
| ၈။ | ဝန်ထမ်းအင်အား | - **၈၀ ဦး** |
| | ပြည်တွင်း | - ၇၂ ဦး |
| | ပြည်ပ | - ၈ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၁၂၅ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၅၀၀ ဖြစ်ပါ သည်။ ပြည်ပ ဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၈၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၂,၀၀၀ ဖြစ်ပါသည်။) |
| ၉။ | ရောင်းချမည့်စနစ် | - ပြည်တွင်း ၁၀၀% |
| ၁၀။ | ကုမ္ပဏီ၏ဝင်ငွေ (ဆဋ္ဌမမြောက်နှစ်) | - US$ ၃.၁၇ သန်း |
| | အသုံးစရိတ် | - US$ ၂.၈၈ သန်း |
| | အသားတင်အမြတ် | - US$ ၀.၂၉ သန်း |
| ၁၁။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဋ္ဌမမြောက်နှစ် ) | |
| | ဝင်ငွေခွန် | - US$ ၀.၁၀ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - US$ ၀.၁၆ သန်း |

| | | |
|---|---|---|
| | အရင်းကြေကာလ | - ၆ နှစ် |
| ၁၂။ | အရင်းအနှီးအပေါ်အကျိုး အမြတ်ပြန်ပေါ်နှုန်း (IRR) | - ၂၆.၀၃% |
| ၁၃။ | နှစ်စဉ်လျှပ်စစ်ဓါတ်အား သုံးစွဲမှု | - ၁၂,၅၀၀ kWh |
| ၁၄။ | နှစ်စဉ်ထုတ်လုပ်မှု (ဆင္ဒမပြောက်နှစ်) | |

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု အရေအတွက် (Unit) | ရောင်းချမည့် ဈေးနှုန်း (ကျပ်) |
|---|---|---|---|
| (က) | Timber Floor/m2 | ၁၂၄၅ | ၈၂၅၀၀ |
| (ခ) | Timber Door/no | ၅၀၀ | ၃၂၂၅၀၀ |
| (ဂ) | Cabinets | ၁၆၃ | ၁၂၇၈၇၅၀ |
| (ဃ) | Wardrobe | ၉၉ | ၂၃၉၅၀၀၀ |
| (င) | Minibar | ၉၉ | ၈၀၀၀၀၀ |
| (စ) | TV Cabinet | ၉၉ | ၁၉၁၆၂၅၀ |
| (ဆ) | Desk | ၉၉ | ၈၀၀၀၀၀ |
| (ဇ) | Chair | ၂၉၁ | ၄၀၂၅၀၀ |
| (ဈ) | Bed Frame | ၉၉ | ၁၄၃၈၇၅၀ |
| (ည) | Timber Partition | ၁၆၃ | ၁၉၁၆၂၅၀ |
| (ဋ) | Tables-coffee | ၉၉ | ၄၃၃၇၅၀ |
| (ဌ) | Tables-dining | ၉၉ | ၁၀၇၁၂၅၀ |
| (ဍ) | Bedside Table | ၁၉၆ | ၃၂၂၅၀၀ |
| (ဎ) | Countertops | ၉၉ | ၉၆၀၀၀၀ |
| (ဏ) | Metal Panelling | ၃၅ | ၂၃၉၅၀၀၀ |
| (တ) | Drapery | ၁၉ | ၁၄၀၆၂၅၀ |
| (ထ) | Sofa | ၃၅ | ၁၄၀၆၂၅၀ |
| (ဒ) | System Furniture | ၃၅ | ၂၃၉၅၀၀၀ |
| (ဓ) | Lamps | ၃၅ | ၁၉၃၇၅၀ |
| (န) | Lighting- custom made | ၃၅ | ၆၄၁၂၅၀ |
| (ပ) | Natural stone-custom made | ၃၅ | ၈၀၀၀၀၀ |

| | | |
|---|---|---|
| ၁၅။ | မီးဘေးကြိုတင်ကာကွယ်ရေး | - မီးဘေးကာကွယ်ရေးစီမံချက် ရေးဆွဲတင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၆။ | အခြားတင်ပြချက် | - မြေအထောက်အထားအဖြစ် ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနပိုင် Great Shwe Taung Development Co., Ltd. အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော မြေပိုင်ဆိုင်မှု အထောက်အထားနှင့် အဆောက်အဦ ဓါတ်ပုံများကို တင်ပြထားပါသည်။<br>- မြေပိုင်ရှင် Great Shwe Taung Development Co., Ltd. နှင့် Areca Collection (Myanmar) Limited တို့ ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦ ငှားရမ်းစာချုပ် (မူကြမ်း) တို့ကိုလည်း တင်ပြထားပါသည်။<br>- ငွေကြေးအထောက်အထားအဖြစ် စင်္ကာပူနိုင်ငံရှိ Biessie Creation Pte., Ltd. အမည်ဖြင့် DBS Bank Ltd. ၌ (၁၇-၁၀-၂၀၁၆) ရက်စွဲဖြင့် US$ ၂၆၉,၃၅၅.၃၅ နှင့် Falcon Incorporation Pte., Ltd. အမည်ဖြင့် DBS Bank Ltd. ၌ (၁၇-၁၀-၂၀၁၆)ရက်စွဲဖြင့် US$ ၁,၁၆၉,၅၃၄.၆၉ ရှိကြောင်း တင်ပြထားပါသည်။<br>- Areca Collection (Myanmar) Limited ၏ MOA, AOA (မူကြမ်း)၊ ဒါရိုက်တာ အဖွဲ့ဝင်များ၏ passport (မိတ္တူ)၊ အလုပ်အကိုင်အသစ်များ ပေါ်ပေါက်လာမည့် အခြေအနေ၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာ ချောင်ချိရေး စီမံချက်၊ အလုပ်သမားများ လစာအပေါ် ဝင်ငွေခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်၊ CSR Project တို့ကို တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်မည့် ပစ္စည်း နမူနာပုံများ တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၇။ | စိစစ်တင်ပြချက် | - ပြည်တွင်းမှ Teak၊ Iron Wood (သစ်မာ) နှင့် Plywood များ ဝယ်ယူမည်ဖြစ်ပြီး ပြည်ပမှ Veneer Plywood (Oak, Ash, Walnut) နှင့် Plywood ကုန်ကြမ်းများကို တင်သွင်းမည်ဖြစ်ပြီး ကုန်ကြမ်းစာရင်းတွင် တင်ပြထားပါသည်။<br>- ရေရှည် သစ်ကုန်ကြမ်း ရရှိမှုနှင့် စပ်လျဉ်း၍ Open tender များတွင် ဝင်ရောက်ယှဉ်ပြိုင် ဝယ်ယူမည်ဖြစ်ပါကြောင်းနှင့် အနာဂတ်တွင်လည်း ကိုယ်ပိုင်သစ်စိုက်ခင်းများ တည်ထောင်စိုက်ပျိုးသွားရန် အစီအစဉ်ရှိပါကြောင်း ကော်မရှင်သို့ တင်ပြထားပါသည်။<br>- နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ပုဂ္ဂလိကမြေတွင် ငှားရမ်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စကို ကော်မရှင်၏ ၂၂/၂၀၁၆ ကြိမ်မြောက် အစည်းအဝေး၊ စီးပွားရေးရာကော်မတီ၏ ၁၆/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးနှင့် ပြည်ထောင်စုအစိုးရအဖွဲ့၏ ၃/၂၀၁၇ ကြိမ်မြောက် အစည်းအဝေး မှ ခွင့်ပြုပြီး ဖြစ်ပါသည်။<br>- အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ၂၀၁၆ ခုနှစ် မတ်လ ၂၁ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၂၆/၂၀၁၆၏ စီးပွားရေးလုပ်ငန်း အမျိုးအစားများ ပြင်ဆင် သတ်မှတ်ခြင်းတွင် ခွင့်မပြုသည့် လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့်လုပ်ငန်း၊ ကန့်သတ်ချက် တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့် လုပ်ငန်း စာရင်းတွင် မပါဝင်သဖြင့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်း အမျိုးအစား ဖြစ်ပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက-၂/ န-၁၅၈ /၂၀၁၇ ( ၁၂၄ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၃၀ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Areca Collection (Myanmar) Limited မှ ပရိဘောဂနှင့် တပ်ဆင်ပစ္စည်းများ၊ အခန်းတွင်း အလှဆင်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်း ကိစ္စ**

၁။ စင်္ကာပူနိုင်ငံ Biessie Creation Pte., Ltd. မှ ၆၀% နှင့် Falcon Incorporation Pte., Ltd. မှ ၄၀% ထည့်ဝင်ကာ မြန်မာနိုင်ငံတွင် Areca Collection (Myanmar) Limited တည်ထောင်၍ ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ မြစိမ်းရောင် စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (၂၀)၊ မြေကွက်အမှတ် C3 ၊ မြေ ၂.၉၃၃ ဧက (၁၁၈၆၉.၄၃ စတုရန်းမီတာ)အနက် ၄၃၀၄ စတုရန်းမီတာရှိ မြေနှင့်အဆောက်အဦကို ငှားရမ်း၍ ပရိဘောဂနှင့် တပ်ဆင်ပစ္စည်းများ၊ အခန်းတွင်းအလှဆင်ပစ္စည်းများထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ Great Shwe Taung Development Co., Ltd. နှင့် Areca Collection (Myanmar) Limited တို့ကြား ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦ ငှားရမ်းစာချုပ် (မူကြမ်း)၊ မြေအထောက်အထားများ၊ အဆောက်အဦဓာတ်ပုံများ တင်ပြထားပါသည်။

၃။ လုပ်ငန်း ဆောင်ရွက်မည့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ မြစိမ်းရောင် စက်မှုဇုန်ဥယျာဉ်၊ မြေတိုင်းရပ်ကွက်အမှတ် (၂၀)၊ မြေကွက်အမှတ် C3 ရှိ မြေ ၄၃၀၄ စတုရန်းမီတာ အား တစ်လလျှင် တစ်စတုရန်းမီတာ US$ ၃.၀၀ နှုန်းဖြင့် မြေ နှင့် အဆောက်အဦအတွက် တစ်နှစ်ငှားရမ်းခ US$ ၁၅၄,၉၄၄ ရရှိမည် ဖြစ်ပါသည်။ မြေငှားသက်တမ်းမှာ ကနဦး ၁၀ နှစ် သက်တမ်းတိုး ၅ နှစ် ၁ ကြိမ် ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး (၅၀)နှစ် နှင့် သက်တမ်းတိုး (၁၀)နှစ် (၂) ကြိမ် ဖြစ်ပါသည်။ တည်ဆောက်ရေးကာလမှာ ၁ နှစ် ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ ၁.၀၀ သန်း ဖြစ်ပါသည်။ တည်ဆောက်ရေးကာလအတွင်း စက်ပစ္စည်း US$ ၃၄၂၅၃၅ တန်ဖိုးအား ပြည်ပမှ တင်သွင်းမည်ဖြစ်ပြီး ကျန်စက်ပစ္စည်း(Spare Parts for Machine) US$ ၁၅၀၉၇၂ တန်ဖိုးအား နှစ်အလိုက် အခွန်ပေးဆောင်၍ ပြည်ပမှ တင်သွင်းမည် ဖြစ်ပါသည်။

၆။ လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း (၇၂)ဦး နှင့် ပြည်ပ (၈)ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၁၂၅ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ US$ ၅၀၀ ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၈၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၂,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိသော ပရိဘောဂ ပစ္စည်းများကို ပြည်တွင်းသို့ ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) ထုတ်လုပ်မှု နှင့် ရောင်းချမှုဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု အရေအတွက် (Unit) | ရောင်းချမည့် ဈေးနှုန်း (ကျပ်) |
|---|---|---|---|
| (က) | Timber Floor/m2 | ၁၂၄၅ | ၈၂၅၀၀ |
| (ခ) | Timber Door/no | ၅၀၀ | ၃၂၂၅၀၀ |
| (ဂ) | Cabinets | ၁၆၃ | ၁၂၇၈၇၅၀ |
| (ဃ) | Wardrobe | ၉၉ | ၂၃၉၅၀၀၀ |
| (င) | Minibar | ၉၉ | ၈၈၀၀၀၀ |
| (စ) | TV Cabinet | ၉၉ | ၁၉၁၆၂၅၀ |
| (ဆ) | Desk | ၉၉ | ၈၀၀၀၀၀ |
| (ဇ) | Chair | ၂၉၁ | ၄၀၂၅၀၀ |
| (ဈ) | Bed Frame | ၉၉ | ၁၄၃၈၇၅၀ |
| (ည) | Timber Partition | ၁၆၃ | ၁၉၁၆၂၅၀ |
| (ဋ) | Tables-coffee | ၉၉ | ၄၃၃၇၅၀ |
| (ဌ) | Tables-dining | ၉၉ | ၁၀၇၁၂၅၀ |
| (ဍ) | Bedside Table | ၁၉၆ | ၃၂၂၅၀၀ |

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု အရေအတွက် (Unit) | ရောင်းချမည့် ဈေးနှုန်း (ကျပ်) |
|---|---|---|---|
| (ဃ) | Countertops | ၉၉ | ၉၆၀၀၀၀ |
| (ဏ) | Metal Panelling | ၃၅ | ၂၃၉၅၀၀၀ |
| (တ) | Drapery | ၁၉ | ၁၄၀၆၂၅၀ |
| (ထ) | Sofa | ၃၅ | ၁၄၀၆၂၅၀ |
| (ဒ) | System Furniture | ၃၅ | ၂၃၉၅၀၀၀ |
| (ဓ) | Lamps | ၃၅ | ၁၉၃၇၅၀ |
| (န) | Lighting- custom made | ၃၅ | ၆၄၁၂၅၀ |
| (ပ) | Natural stone-custom made | ၃၅ | ၈၈၀၀၀၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | US $ (သန်း) |
|---|---|---|---|
| (က) | ဝင်ငွေ | - | ၃.၁၇ |
| (ခ) | အသုံးစရိတ် | - | ၂.၈၈ |
| (ဂ) | အသားတင်အမြတ် | - | ၀.၂၉ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ (ဆဋ္ဌမမြောက်နှစ်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၁၀ သန်းနှင့် ကုန်သွယ် လုပ်ငန်းခွန် အမေရိကန်ဒေါ်လာ ၀.၁၆ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၆ နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၂၆.၀၃% ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၁၂၅၀ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည် -

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ (၅-၁၂-၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေး

အမှတ်စဉ်(၃၃/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ်(၁၀၈)အရ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ - က)**

(ခ) **ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့မှ** အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထား မှတ်ချက် ပြန်ကြားထားပါသည်-

(၁) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံ ဆောင်ရွက်မှု (Corporate Social Responsibility-CSR)အတွက် အသားတင်အမြတ်ငွေ၏ (၂)ရာခိုင်နှုန်း အသုံးပြုခြင်း အပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များအား တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးအတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination- IEE)ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းတွင် ဖော်ပြပါရှိသော ညွှန်ကြားချက်များနှင့်အညီ အစီရင်ခံရေးသား တင်ပြရန်နှင့် ဝန်ကြီးဌာနမှ လိုအပ်ပါက ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment- EIA)ကို ဆက်လက် ဆောင်ရွက်ရန်။

(၃) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan- EMP) အား ပတ်ဝန်းကျင်

ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းတွင် ဖော်ပြပါရှိသည့် ညွှန်ကြားချက်များနှင့်အညီ အစီရင်ခံရေးသား တင်ပြရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်ရန်။ **(နောက်ဆက်တွဲ-ခ)**

**[ကုမ္ပဏီမှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်း လုပ်ငန်းအဖွဲ့၏ သဘောထားမှတ်ချက်အရ ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination - IEE) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan- EMP)ကို ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။]**

(ဂ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်း အသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေး ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့်ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ၎င်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၁% သုံးစွဲရန်လိုအပ်ပါကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထား ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ကုမ္ပဏီမှ အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်သွားမည်ဆိုပါက ဝန်ကြီးဌာန အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည်။ **(နောက်ဆက်တွဲ-ဂ)**

**[စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ကုမ္ပဏီမှ ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။]**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် စင်္ကာပူနိုင်ငံရှိ Biessie Creation Pte., Ltd. အမည်ဖြင့် DBS Bank Ltd. ၌ (၁၇-၁၀-၂၀၁၆) ရက်စွဲဖြင့် US$ ၂၆၉,၃၅၅.၃၅ နှင့် Falcon Incorporation Pte., Ltd. အမည်ဖြင့် DBS Bank Ltd. ၌ (၁၇-၁၀-၂၀၁၆)ရက်စွဲဖြင့် US$ ၁,၁၆၉,၅၃၄.၆၉ ရှိကြောင်းနှင့် ဒါရိုက်တာ အဖွဲ့ဝင်များ၏ Passport မိတ္တူများ တင်ပြထားပါသည်။

၁၂။ Areca Collection (Myanmar) Limited မှ ထုတ်လုပ်မည့် ပစ္စည်း နမူနာပုံများ၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ အလုပ်အကိုင်အသစ်များ ပေါ်ပေါက်လာမည့် အခြေအနေ၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာ ချောင်ချိရေး စီမံချက်၊ အလုပ်သမားများ လစာအပေါ် ဝင်ငွေခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်၊ CSR Project ကတိ ဝန်ခံချက်တို့ကို တင်ပြထားပါသည်။

၁၃။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၂)၊ ပုဒ်မ ၂၇ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြ လျှောက်ထားလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

၁၄။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၃၉/၂၀၁၆ (၂၄-၁၀-၂၀၁၆) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၅။ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ပြည်တွင်းမှ Teak ၊ Iron Wood (သစ်မာ) နှင့် Plywood များ ဝယ်ယူမည်ဖြစ်ပြီး ပြည်ပမှ Veneer Plywood (Oak, Ash, Walnut) နှင့် Plywood ကုန်ကြမ်းများကို တင်သွင်းမည်ဖြစ်ပြီး ကုန်ကြမ်းစာရင်းတွင် တင်ပြထားပါသည်။

(ခ) ရေရှည် သစ်ကုန်ကြမ်း ရရှိမှုနှင့် စပ်လျဉ်း၍ Open tender များတွင် ဝင်ရောက်ယှဉ်ပြိုင်ဝယ်ယူမည်ဖြစ်ပါကြောင်းနှင့်အနာဂတ်တွင်လည်း ကိုယ်ပိုင်သစ်စိုက်ခင်းများ တည်ထောင်စိုက်ပျိုးသွားရန် အစီအစဉ်ရှိပါကြောင်း ကော်မရှင်သို့ တင်ပြထားပါသည်။

(ဂ) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ပုဂ္ဂလိကမြေတွင် ငှားရမ်း ဆောင်ရွက်ခွင့်ပြုရန်ကိစ္စကို ကော်မရှင်၏ ၂၂/၂၀၁၆ ကြိမ်မြောက် အစည်းအဝေး၊ စီးပွားရေးရာ ကော်မတီ၏ ၁၆/၂၀၁၆ ကြိမ်မြောက် အစည်းအဝေး နှင့် ပြည်ထောင်စု အစိုးရအဖွဲ့၏ ၃/၂၀၁၇ ကြိမ်မြောက် အစည်းအဝေးမှ ခွင့်ပြုပြီးဖြစ်ပါသည်။

(ဃ) အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ၂၀၁၆ ခုနှစ် မတ်လ ၂၁ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၂၆/၂၀၁၆ ၏ စီးပွားရေးလုပ်ငန်း အမျိုးအစားများ ပြင်ဆင် သတ်မှတ်ခြင်းတွင် ခွင့်မပြုသည့် လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့်လုပ်ငန်း၊ ကန့်သတ်ချက် တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့် လုပ်ငန်း စာရင်းတွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်း အမျိုးအစား ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ ရခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Areca Collection (Myanmar) Limited မှ ပရိဘောဂနှင့် တပ်ဆင်ပစ္စည်းများ၊ အခန်းတွင်း အလှဆင် ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာခြင်းအပေါ် ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Areca Collection (Myanmar) Limited | **Biessie Creation Pte., Ltd.** Represented by: (၁) Ng Wee Hian Director Singapore E5474710N | 259, Bukit Panjang Ring Road,#10-22, S671259, Singapore |
| | | Falcon Incorporation Pte., Ltd. Represented by: (၂) Low Heng Huat Director Singapore E5685309H | 700 Toa Payoh Lor 1 #14-02, Singapore, 319973 |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် -

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ -

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး -

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - ပရိဘောဂနှင့် တပ်ဆင်ပစ္စည်းများ၊ အခန်းတွင်း အလှဆင်ပစ္စည်းများထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - -




နောက်ဆက်တွဲ(က)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာ လ ၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၂. ၁၁. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ မရက-၂/ န-၁၅၈/၂၀၁၆(၈၅၇)

၁။ စင်ကာပူနိုင်ငံ Biessie Creation Pte., Ltd. မှ ၆၀%နှင့် Falcon Incorporation Pte., Ltd. မှ ၄၀% ထည့်ဝင်ကာ မြန်မာနိုင်ငံတွင် Areca Collection (Myanmar) Limited တည်ထောင်၍ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ မြစိမ်းရောင်စက်မှုဇုန်ဥယျာဉ်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၀)၊ မြေကွက်အမှတ် C3၊ မြေ ၂. ၉၃၃ ဧက (၁၁၈၆၉. ၄၃ စတုရန်းမီတာ)အနက် ၄၃၀၄ စတုရန်းမီတာရှိ မြေနှင့်အဆောက်အဦကို ငှားရမ်း၍ ပရိဘောဂနှင့် တပ်ဆင်ပစ္စည်းများ၊ အခန်းတွင်း အလှဆင်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ (၅. ၁၂. ၂၀၁၆)ရက်နေ့ တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၃/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ် (၁၀၈)အရ ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဥ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှိုင်သာယာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Areca Collection (Myanmar) Limited
လက်ခံစာတွဲ/မျှောစာတွဲ

D/2016/Cabinet/33.(10)

နောက်ဆက်တွဲ(ခ)




ရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC(OSS) /၀၁(၂၅၇/၂၆)
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဒီဇင်ဘာလ ၂၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Areca Collection (Myanmar) Limited မှ ပရိဘောဂနှင့် တပ်ဆင်ပစ္စည်းများ၊ အခန်းတွင်းအလှဆင်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၇-၁၁-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက-၂/ န-၁၅၈/ ၂၀၁၆(၈၄၄-က)

၁။ စင်္ကာပူနိုင်ငံ Biessie Creation Pte.,Ltd. မှ ၆၀% နှင့် Falcon Incorporation Pte.,Ltd. မှ ၄၀%ဖြင့် မြန်မာနိုင်ငံတွင် Areca Collection (Myanmar) Limited တည်ထောင်ကာ မြေကွက်အမှတ်-C3၊ မြေတိုင်းရပ်ကွက်အမှတ်-(၂၀)၊ မြစိမ်းရောင် စက်မှုဇုန်ဥယျာဉ်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၂.၉၃၃ ဧက( ၁၁၈၆၇.၄၃ စတုရန်းမီတာ)ကိုငှားရမ်း၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ပရိဘောဂနှင့်တပ်ဆင်ပစ္စည်းများ၊ အလှဆင်ပစ္စည်းများထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များ လေ့လာတွေ့ရှိရပါသည်-

(က) ကနဦးရင်းနှီးမြှုပ်နှံမှု ကာလမှာ(၅၀)နှစ်ဖြစ်ပြီး၊ သက်တမ်းတိုးခြင်းအား (၁၀)နှစ် (၂) ကြိမ် ဆောင်ရွက်မည်ဖြစ်ကြောင်း၊ လုပ်ငန်းတည်ဆောက်မည့် ကာလမှာ(၁)နှစ် ဖြစ်ကြောင်း၊ ဝန်ထမ်းများအတွက် သက်သာချောင်ချိရေးအစီအစဉ်၊ မီးဘေးကာကွယ်ရေး အစီအမံများကိုလည်း ထည့်သွင်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု( Corporate Social Responsibility – CSR ) အနေဖြင့်

လုပ်ငန်းမှရရှိလာမည့် အသားတင် အမြတ်ငွေ၏ (၁) ရာခိုင်နှုန်းကို ထည့်သွင်းအသုံးပြု သွားမည်ဖြစ်ကြောင်း၊ ဝန်ထမ်းများအား လုပ်ငန်းခွင် သင်တန်းများ ပို့ချခြင်း ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

( ခ ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ကိုထိခိုက် ညစ်ညမ်းမှု ဖြစ်ပေါ်စေမည့် စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်ရေဆိုးများ၊ အနံ့အသက်နှင့်ဖုန်မှုန့်များ၊ ဆူညံမှု များအားထိန်းချုပ်ဆောင်ရွက် သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) လုပ်ငန်းတည်ဆောက်ရေး လုပ်ငန်းများဆောင်ရွက်ရာတွင် ယာဉ် နှင့် စက်ယန္တရားများ သုံးစွဲခြင်းကြောင့် ဖုန်နှင့် အမှုန့်အမွှားများ ထွက်ရှိခြင်း၊ အသံဆူညံခြင်း၊ အခိုးအငွေ့ များထွက်ရှိခြင်း၊ စက်သုံးဆီ နှင့် အခြားစက်ဆီ ချောဆီများ ယိုဖိတ်မှုများ ဖြစ်ပေါ် နိုင်ခြင်း၊

( ခ ) လုပ်ငန်းမှ ပစ္စည်းထုတ်လုပ်မှု(၂၃)မျိုး ထုတ်လုပ်သွားမည်ဖြစ်ပြီး လုပ်ငန်းအဆင့်ဆင့် တိုင်းတွင် ထွက်ရှိသော သစ်သားအစများ၊ သံသတ္တုအပိုင်းအစများ၊ သားရေ အပိုင်း အစများ၊ စွန့်ပစ်ပစ္စည်းများ၊ သားရေများကို အပူပေး ကော်ကပ်ခြင်း နှင့် ဆေးသုတ် ခြင်းများ ဆောင်ရွက်ရမည်ဖြစ်၍ အနံ့ဆိုးပျံ့လွင့်အနံ့များ လွန်ကဲစွာ ထွက်ရှိခြင်း၊ လုပ်ငန်းခွင်အတွင်း အခန်းတွင်း လေထုညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ခြင်း၊

( ဂ ) လုပ်ငန်းတစ်ခုလုံး၏ အဆင့်တိုင်းတွင်စက်များကို အသုံးပြုဆောင်ရွက်ရသဖြင့် အသံ ဆူညံခြင်း၊ လောင်စာသုံး ဘွိုင်လာ သုံးစွဲခြင်းကြောင့် ပြာ နှင့် အခိုးအငွေ့များ ထွက်ရှိနိုင်ပြီး၊ စုစည်းအနံ့များ ဆိုးရွားစွာ ထွက်ရှိခြင်းနှင့် စွန့်ပစ်ပစ္စည်းများကို စနစ် တကျ စီမံခန့်ခွဲမှု မရှိခြင်းတို့ကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းမှုဖြစ်ခြင်း စသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Areca Collection (Myanmar) Limited မှ ပရိဘောဂနှင့်တပ်ဆင်ပစ္စည်းများ၊ အလှဆင်ပစ္စည်းများ ထုတ်လုပ်ခြင်း နှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းဆောင်ရွက် ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါ အတိုင်း သဘောထားမှတ်ချက် ပြန်ကြား အပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့်လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု(Corporate Social Responsibility -CSR ) အတွက် အသားတင်အမြတ်ငွေ၏(၂)ရာခိုင်နှုန်း အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များအား တိတိကျကျ လိုက်နာ အကောင်အထည် ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးအတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE)** ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းတွင် ဖော်ပြပါရှိသော ညွှန်ကြားချက်များ နှင့်အညီ အစီရင်ခံရေးသားတင်ပြရန်နှင့် ဝန်ကြီးဌာနမှ လိုအပ်ပါက **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း(Environmental Impact Assessment-EIA)** ကို ဆက်လက်ဆောင်ရွက်ရန်။

(ဂ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမဖြစ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan– EMP)** အား ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းတွင်ဖော်ပြပါရှိသည့် ညွှန်ကြားချက်များနှင့်အညီ အစီရင်ခံရေးသားတင်ပြရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (←ထုတ်လွှတ်မှု→) လမ်းညွှန်ချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် ဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်းရယူဆောင်ရွက်ရန်။

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ



နောက်ဆက်တွဲ(ဂ)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၁၃-စမ(၂)၂၀၁၆-၂၀၁၇(၂၂၉၄)

ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ ၂ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂.၁၁.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက-၂ / န-၁၅၈ / ၂၀၁၆ (၈၅၈)

၁။ Areca Collection (Myanmar) Limited မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ မြစိမ်းရောင်စက်မှုဇုန်ဥယျာဉ်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၁)၊ မြေကွက်အမှတ်(C 3)တွင် ပရိဘောဂနှင့် တပ်ဆင်ပစ္စည်းများ၊ အခန်းတွင်း အလှဆင်ပစ္စည်းများထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး ပရိဘောဂနှင့် တပ်ဆင်ပစ္စည်းများ၊ အခန်းတွင်း အလှဆင်ပစ္စည်းများထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ၎င်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၁ % သုံးစွဲရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Areca Collection (Myanmar) Limited မှ ပရိဘောဂနှင့် တပ်ဆင်ပစ္စည်းများ၊ အခန်းတွင်း အလှဆင်ပစ္စည်းများထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် အထက်ပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်သွားမည်ဆိုပါက ဤဝန်ကြီးဌာနအနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ရုံးလက်ခံ